၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆို မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့် အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူ၍ စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၈ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကို ဖြစ်စေ၊ အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကို ဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ဖျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပိုင်ဆိုင်ကာ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန်မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၃ ) ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ( ၁၄ ) ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှ ခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

အိုးအိမ်ပုံစံ
အကွက် - ၂၂

ရန်ကုန်မြို့တော်

မြောက်ဥက္ကလာပ မြို့နယ်၊ လူနေရပ်ကွက် အမှတ် ရွှေပေါက်ကံ...

မြေတိုင်းရပ်ကွက်အမှတ် ၇၉/၁ မှ မြေကွက်အမှတ် ၂၁ ၏

မြေပုံ -

၁ လက်မလျှင် ၁၀၀ ပေစကေး




ရှည်ညွှန်းချက်

ရေးဆွဲသူ ........ ဧရိယာ

စတုရန်းပေ ၆၁၇၂

ဧက ၀.၁၄၂

ပုံကူးစာရေး

မြေတိုင်း (၃)

မြေတိုင်း (၂)

ဦးစီးအရာရှိ
မြေတိုင်း ( )
မြေတိုင်းဌာနခွဲ
မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

# ပြည်ပမှဝယ်ယူမည့်မိုးထီးစက်ပစ္စည်းစာရင်း

ဇယား(၁)-ထုတ်လုပ်မှုအတွက်လိုအပ်သည့်ပစ္စည်းများစာရင်း (Umbrella) Poe,Eva

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်း၄လုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး | စုစုပေါင်းတန်ဖိုး | ပင်ရင်းနိုင်ငံ |
|---|---|---|---|---|---|---|---|
| | | | | | | | ပြည်ပ |
| | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| 1 | Foot hemmer machine | 8452 | pcs | 2 | 10,000 | 20,000 | China |
| 2 | Join ends of fabirc to fabric sewing machine | 8452 | pcs | 20 | 1,154 | 23,080 | China |
| 3 | Tip attach machine | 8452 | pcs | 10 | 1,000 | 10,000 | China |
| 4 | Finishing edges sewing machine | 8452 | pcs | 10 | 1,462 | 14,620 | China |
| 5 | Strap manufacture machine | 8452 | pcs | 5 | 1,308 | 6,540 | China |
| 6 | Buttons sewing machine | 8452 | pcs | 10 | 69 | 690 | China |
| 7 | Handle attach machine | 8452 | pcs | 3 | 1,462 | 4,386 | China |
| 8 | Shaft manufacture machine | 8479 | pcs | 10 | 185 | 1,850 | China |
| | **စုစုပေါင်း** | | | **70** | **16,640** | **81,166** | |

မှတ်ချက်။ အထက်ဖော်ပြပါစ္စည်းများအားလုံးသည် Brand New များဖြစ်ပါသည်။
ယင်းပစ္စည်းများမှာပြည်တွင်းမှဝယ်ယူ၍မရပါသောကြောင့်ပြည်ပမှဝယ်ယူရခြင်းဖြစ်ပါသည်။

## ပြည်ပမှဝယ်ယူမည့်မိုးထီးကုန်ကြမ်းပစ္စည်းစာရင်း

### HANKI INTERNATIONAL Co., Ltd.
### RAW MATERIALS CONSUMPTION_UMBRELLA (POE, EVA)

| No | Particulars | HS Code | Unit | Price | Quantity | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 to 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | frame | 6603 | PCS | 0.30 | 800,000 | 240,000 | 270,000 | 300,000 | 300,000 | 360,000 | 390,000 |
| 2 | fabric(poe,eva) | 3907 | 1kg | 0.15 | 800,000 | 120,000 | 135,000 | 150,000 | 150,000 | 180,000 | 195,000 |
| 3 | handel | 6603 | PCS | 0.10 | 800,000 | 80,000 | 90,000 | 100,000 | 100,000 | 120,000 | 130,000 |
| 4 | cap | 6603 | PCS | 0.05 | 800,000 | 40,000 | 45,000 | 50,000 | 50,000 | 60,000 | 65,000 |
| 5 | Opp | 3923 | PCS | 0.01 | 800,000 | 8,000 | 9,000 | 10,000 | 10,000 | 12,000 | 13,000 |
| 6 | Tag | 4821 | PCS | 0.01 | 800,000 | 8,000 | 9,000 | 10,000 | 10,000 | 12,000 | 13,000 |
| 7 | Label | 5807 | PCS | 0.01 | 800,000 | 8,000 | 9,000 | 10,000 | 10,000 | 12,000 | 13,000 |
| 8 | Box | 4819 | PCS | 0.80 | 16,000 | 12,800 | 14,400 | 16,000 | 16,000 | 19,200 | 20,800 |
| 9 | Pack-thread | 5607 | Yd | 0.50 | 4,000 | 2,000 | 2,250 | 2,500 | 2,500 | 3,000 | 3,250 |
| 10 | Tape | 5607 | Yd | 0.80 | 4,000 | 3,200 | 3,600 | 4,000 | 4,000 | 4,800 | 5,200 |
| **Total cost** | | | | | **5,624,000** | **522,000** | **587,250** | **652,500** | **652,500** | **783,000** | **848,250** |

Raw Material to be imported From China

ပြည်ပမှဝယ်ယူမည့်မိုးထီးကုန်ကြမ်းပစ္စည်းစာရင်း

## HANKI INTERNATIONAL Co., Ltd.
## RAW MATERIALS CONSUMPTION_UMBRELLA (POE, EVA)

| No | Particulars | HS Code | Unit | Price | Quantity |
|---|---|---|---|---|---|
| 1 | frame | 6603 | PCS | 0.30 | 800,000 |
| 2 | fabric(poe,eva) | 3907 | 1kg | 0.15 | 800,000 |
| 3 | handel | 6603 | PCS | 0.10 | 800,000 |
| 4 | cap | 6603 | PCS | 0.05 | 800,000 |
| 5 | Opp | 3923 | PCS | 0.01 | 800,000 |
| 6 | Tag | 4821 | PCS | 0.01 | 800,000 |
| 7 | Label | 5807 | PCS | 0.01 | 800,000 |
| 8 | Box | 4819 | PCS | 0.80 | 16,000 |
| 9 | Pack-thread | 5607 | Yd | 0.50 | 4,000 |
| 10 | Tape | 5607 | Yd | 0.80 | 4,000 |
| **Total cost** | | | | | **5,624,000** |

Raw Material to be imported From China

# ပြည်ပမှဝယ်ယူမည့်ကုန်ကြမ်းပစ္စည်းစာရင်း

## HANKI INTERNATIONAL Co., Ltd.

## RAW MATERIALS CONSUMPTION_UMBRELLA

| No | Particulars | HS Code | Unit | Price | Quantity |
|---|---|---|---|---|---|
| 1 | frame | 6603 | PCS | 0.55 | 700,000 |
| 2 | fabric | 5407 | Yd | 0.40 | 700,000 |
| 3 | handel | 6603 | PCS | 0.27 | 700,000 |
| 4 | cap | 6603 | PCS | 0.10 | 700,000 |
| 5 | Opp | 3923 | PCS | 0.01 | 700,000 |
| 6 | Tag | 4821 | PCS | 0.03 | 700,000 |
| 7 | Label | 5807 | PCS | 0.02 | 700,000 |
| 8 | Box | 4819 | PCS | 0.80 | 14,000 |
| 9 | Pack-thread | 5607 | Yd | 0.50 | 3,500 |
| 10 | Tape | 5607 | Yd | 0.80 | 3,500 |
| **Total cost** | | | | | **4,921,000** |

## ပြည်ပမှဝယ်ယူမည့်ကုန်ကြမ်းပစ္စည်းစာရင်း

### HANKI INTERNATIONAL Co., Ltd.
### RAW MATERIALS CONSUMPTION_UMBRELLA

| No | Particulars | HS Code | Unit | Price | Quantity | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 to 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | frame | 6603 | PCS | 0.55 | 700,000 | 385,000 | 440,000 | 495,000 | 495,000 | 550,000 | 660,000 |
| 2 | fabric | 5407 | Yd | 0.40 | 700,000 | 280,000 | 320,000 | 360,000 | 360,000 | 400,000 | 480,000 |
| 3 | handei | 6603 | PCS | 0.27 | 700,000 | 189,000 | 216,000 | 243,000 | 243,000 | 270,000 | 324,000 |
| 4 | cap | 6603 | PCS | 0.10 | 700,000 | 70,000 | 80,000 | 90,000 | 90,000 | 100,000 | 120,000 |
| 5 | Opp | 3923 | PCS | 0.01 | 700,000 | 7,000 | 8,000 | 9,000 | 9,000 | 10,000 | 12,000 |
| 6 | Tag | 4821 | PCS | 0.03 | 700,000 | 21,000 | 24,000 | 27,000 | 27,000 | 30,000 | 36,000 |
| 7 | Label | 5807 | PCS | 0.02 | 700,000 | 14,000 | 16,000 | 18,000 | 18,000 | 20,000 | 24,000 |
| 8 | Box | 4819 | PCS | 0.80 | 14,000 | 11,200 | 12,800 | 14,400 | 14,400 | 16,000 | 19,200 |
| 9 | Pack-thread | 5607 | Yd | 0.50 | 3,500 | 1,750 | 2,000 | 2,250 | 2,250 | 2,500 | 3,000 |
| 10 | Tape | 5607 | Yd | 0.80 | 3,500 | 2,800 | 3,200 | 3,600 | 3,600 | 4,000 | 4,800 |
| **Total cost** | | | | | **4,921,000** | **981,750** | **1,122,000** | **1,262,250** | **1,262,250** | **1,402,500** | **1,683,000** |

Raw Material to be imported From China

# ပြည်တွင်းမှဝယ်ယူမည့်စက်ပစ္စည်းစာရင်း

ဇယား(၁)-ထုတ်လုပ်မှုအတွက်လိုအပ်သည့်ပစ္စည်းများစာရင်း (ပြည်တွင်း)

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်းငှလုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး | စုစုပေါင်းတန်ဖိုး | ပင်ရင်းနိုင်ငံ |
|---|---|---|---|---|---|---|---|
| | | | | | | | ပြည်တွင်း |
| | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| 1 | Sewing machine | 8452 | pcs | 2 | 494,000 | 988,000 | Local |
| 2 | Sewing machine | 8452 | pcs | 8 | 741,000 | 5,928,000 | Local |
| 3 | Sewing machine | 8452 | pcs | 1 | 741,000 | 741,000 | Local |
| 4 | Eletroni Sewing machine | 8452 | pcs | 1 | 2,925,000 | 2,925,000 | Local |
| 5 | eyelet button hole | 8452 | pcs | 1 | 3,055,000 | 3,055,000 | Local |
| 6 | Button attach machine | 8452 | pcs | 2 | 364,000 | 728,000 | Local |
| 7 | Sewing machine | 8452 | pcs | 3 | 494,000 | 1,482,000 | Local |
| 8 | Puller | 8452 | pcs | 1 | 39,000 | 39,000 | Local |
| 9 | Strap fix sewing machine | 8452 | pcs | 1 | 2,839,200 | 2,839,200 | Local |
| 10 | Finishing edges sewing machine | 8452 | pcs | 1 | 1,799,200 | 1,799,200 | Local |
| 11 | Handle attach machine | 8452 | pcs | 1 | 1,498,900 | 1,498,900 | Local |
| 12 | Packing machine | 8479 | pcs | 1 | 559,000 | 559,000 | Local |
| 13 | TIP attach machine | 8452 | pcs | 2 | 759,200 | 1,518,400 | Local |
| 14 | Sewing machine | 8452 | pcs | 2 | 759,200 | 1,518,400 | Local |
| 15 | Fabric Cutting Hook | 8452 | pcs | 1 | 98,800 | 98,800 | Local |
| 16 | Button attach machine | 8452 | pcs | 1 | 219,700 | 219,700 | Local |
| | စုစုပေါင်း | | | | | 25,937,600 | |

မှတ်ချက်။ အထက်ဖော်ပြပါပစ္စည်းများအားလုံးသည် Brand New များဖြစ်ပါသည်။

# ပြည်ပမှဝယ်ယူမည့်မိုးထီးစက်ပစ္စည်းစာရင်း

ဇယား(၁)-ထုတ်လုပ်မှုအတွက်လိုအပ်သည့်ပစ္စည်းများစာရင်း (Umbrella) Poe,Eva

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်း၄လုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး | စုစုပေါင်းတန်ဖိုး | ပင်ရင်းနိုင်ငံ ပြည်ပ |
|---|---|---|---|---|---|---|---|
| | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| 1 | Foot hemmer machine | 8452 | pcs | 2 | 10,000 | 20,000 | China |
| 2 | Join ends of fabirc to fabric sewing machine | 8452 | pcs | 20 | 1,154 | 23,080 | China |
| 3 | Tip attach machine | 8452 | pcs | 10 | 1,000 | 10,000 | China |
| 4 | Finishing edges sewing machine | 8452 | pcs | 10 | 1,462 | 14,620 | China |
| 5 | Strap manufacture machine | 8452 | pcs | 5 | 1,308 | 6,540 | China |
| 6 | Buttons sewing machine | 8452 | pcs | 10 | 69 | 690 | China |
| 7 | Handle attach machine | 8452 | pcs | 3 | 1,462 | 4,386 | China |
| 8 | Shaft manufacture machine | 8479 | pcs | 10 | 185 | 1,850 | China |
| | စုစုပေါင်း | | | **70** | **16,640** | **81,166** | |

# ပြည်ပမှဝယ်ယူမည့်စက်ပစ္စည်းစာရင်း

ဇယား(၁)-ထုတ်လုပ်မှုအတွက်လိုအပ်သည့်ပစ္စည်းများစာရင်း (Umbrella)

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်း၄လုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး | စုစုပေါင်းတန်ဖိုး | ပင်ရင်းနိုင်ငံ |
|---|---|---|---|---|---|---|---|
| | | | | | | | ပြည်ပ |
| | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| 1 | Case manufacture sewing machine | 8452 | pcs | 10 | 354 | 3,540 | China |
| 2 | Fabric sewing machine | 8452 | pcs | 200 | 492 | 98,400 | China |
| 3 | Finishing edges sewing machine | 8452 | pcs | 10 | 1,385 | 13,850 | China |
| 4 | Strap fix sewing machine | 8452 | pcs | 10 | 2,185 | 21,850 | China |
| 5 | Tip attach machine | 8452 | pcs | 10 | 585 | 5,850 | China |
| 6 | Velcro sewing machine | 8452 | pcs | 10 | 2,308 | 23,080 | China |

| | | | | | | | |
|---|---|---|---|---|---|---|---|
| 7 | Inside of umbrell prop machine | 8452 | pcs | 10 | 538 | 5,380 | China |
| 8 | Strap sewing machine | 8452 | pcs | 10 | 738 | 7,380 | China |
| 9 | Button attach machine | 8452 | pcs | 10 | 146 | 1,460 | China |
| 10 | Shaft attach machine with cap and handle | 8479 | pcs | 10 | 1,154 | 11,540 | China |
| 11 | Packing machine | 8479 | pcs | 3 | 308 | 924 | China |
| 12 | steelyard | 8423 | pcs | 2 | 300 | 600 | China |
| | **စုစုပေါင်း** | | | **295** | **10,493** | **193,854** | |

မှတ်ချက်။ အထက်ဖော်ပြပါစက်ပစ္စည်းများအားလုံးသည် Brand New များဖြစ်ပါသည်။
ယင်းပစ္စည်းများမှာပြည်တွင်းမှဝယ်ယူ၍မရပါသောကြောင့်ပြည်ပမှဝယ်ယူရခြင်းဖြစ်ပါသည်။

ပိုင်ရှင် ဒေါ်သန္တာထွန်း

နှင့်

ငှားရမ်းသူ HANKI INTERNATIONAL CO., LTD.

တို့၏

နှစ်ဦးသဘောတူမြေနှင့် အဆောက်အဦး ငှားရမ်းခြင်း

ကတိစာချုပ်

## နှစ်ဦးသဘောတူ မြေနှင့်အဆောက်အဦးငှားရမ်းခြင်း ကတိစာချုပ်

ဤနှစ်ဦးသဘောတူ မြေနှင့်အဆောက်အဦးငှားရမ်းခြင်း ကတိစာချုပ်ကို ရန်ကုန်တိုင်းဒေသကြီး၌ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ၊ (   )ရက်နေ့တွင် အောက်ပါစည်းကမ်းချက်များနှင့်အညီ ပြုလုပ်ဆောင်ရွက်သွားကြရန် နှစ်ဖက်သဘောတူ လက်မှတ်ရေးထိုး ကြပါသည်။

အငှားချထားသူ(အိမ်ရှင်) ။ ။အမည် ဒေါ်သန္တာထွန်း (မှတ်ပုံတင်အမှတ်-၁၂/ဒဂမ (နိုင်)၀၀၅၈၉၂)
နေရပ်လိပ်စာ အမှတ်-၁၀၊ကမ္ဘာအေးစေတီလမ်း ၊ရန်ကုန်တိုင်းဒေသကြီး။

ငှားရမ်းသူ ။ ။HANKI INTERNATIONAL Co., Ltd.ကိုယ်စား အောက်ပါပုဂ္ဂိုလ်မှ လက်မှတ်ရေးထိုး စာချုပ်ချုပ်ဆိုပါသည်။ ဒေါ်ဟောက်ဇန္ဒမ်(မှတ်ပုံတင်အမှတ်-၄/တခန(နိုင်)၀၀၄၅၀၂)၊ (အထက်အမည်ပါ အငှားချထားသူ(အိမ်ရှင်)နှင့် ငှားရမ်းသူတို့ဆိုရာတွင် ၎င်းတို့ကိုယ်တိုင်အပြင်၊ ၎င်းတို့၏ အမွေစား အမွေခံများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဒါရိုက်တာအဖွဲ့ အစုရှယ်ယာရှင်များအပြင်၊ ၎င်းတို့၏ အရိုက်အရာကို စဉ်ဆက်မပြတ် ဆက်ခံသူများ အားလုံးအကျုံးဝင်သည်ဟု မှတ်ယူရမည်။)

ဤစာချုပ်အရ အငှားချထားသူများဖြစ်ပြီး အိမ်ရှင်ဖြစ်သည့် ဒေါ်သန္တာထွန်း(မှတ်ပုံတင်အမှတ်၁၂/ဒဂမ (နိုင်)၀၀၅၈၉၂) သည် အောက်တွင်အသေးစိတ်ဖော်ပြထားသည့် တိုက်အိမ်နှင့်မြေကွက်၏ တရားဝင်ပိုင်ရှင်ဖြစ်ပြီး၊ လွတ်လပ်စွာ စီမံခန့် ခွဲပိုင်ခွင့်နှင့်အ ငှားချထားပိုင်ခွင့်ရှိကြောင်း ကတိပြုဝန်ခံ၍ အငှားချထားလိုကြောင်း အဆိုပြုရာ ငှားရမ်းသူမှလည်း အဆိုပါမြေကွက် များနှင့်အိမ်အား အငှားရယူရန် သဘောတူညီကြသဖြင့် နှစ်ဦးသဘောတူ ဤမြေနှင့်အဆောက်အဦးငှားရမ်းခြင်း ကတိစာချုပ်ကို အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြပါသည်။

၁။ <u>ငှားရမ်းသည့်မြေနှင့်အဆောက်အဦး</u>

ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပေါက်ကံမြို့နယ်၊ ရွှေပေါက်ကံရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၉/၁)၊အမှတ်(၂၁)၊ ကနောင်(၁၂) လမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ (၀. ၁၄၂) ဧက အကျယ် အဝန်းရှိသော မြေကွက်နှင့် အဆိုပါမြေကွက်များပေါ်တွင် ဆောက်လုပ်ထားသည့် တိုက်အဆောက်အဦးတို့ဖြစ်ပါသည်။

၂။ <u>အငှားချထားသည့်နေရာတွင် ဆောင်ရွက်မည့်လုပ်ငန်းအမျိုးအစား</u>

ငှားရမ်းသူသည် အငှားချထားသည့် မြေနှင့်အဆောက်အဦးတွင် MICခွင့်ပြုမိန့်ဖြင့် (ထီး)လူသုံးကုန်ပစ္စည်းများ ထုတ်လုပ် ရောင်းချမည်ဖြစ်ပါသည်။

၃။ <u>ငှားရမ်းသည့်ကာလ</u>

အိမ်ရှင်မှ မိမိပိုင်ဆိုင်ပြီး၊ အကျိုးခံစားလျှက်ရှိသော မြေနှင့်အဆောက်အဦးအား (၁၀)နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ ငှားရမ်း သည့်ကာလမှာ (၁. ၁၁. ၂၀၁၆) မှ (၁. ၁၁. ၂၀၂၆) ငှားရမ်းခြင်း ဖြစ်ပါသည်။

၄။ <u>ငှားရမ်းခနှုန်းထား</u>

ဤစာချုပ်အရ ငှားရမ်းခြင်းပြုလုပ်မည့် မြေနှင့်အဆောက်အဦးအား ပထမနှစ်မှပဉ္စမနှစ်အတွင်း ငှားရမ်းခငွေကျပ် (၁၀၀၀၀၀၀ိ/-) (ဆယ်သိန်းကျပ်)တိတိဖြင့်ငှားရမ်းဖြစ်ပြီး၊ဆဋ္ဌမနှစ်မှဒသမနှစ်အတွင်း ငှားရမ်းခငွေကျပ် (၁၅၀၀၀၀၀ိ/) (တစ်ဆယ့်ငါးသိန်းကျပ်)တိတိ ဖြင့်ငှားရမ်းမည်ဖြစ်ပါသည်။

စာမျက်နှာ-၂/သို့

၅။ ငှားရမ်းခပေးချေခြင်း

ယခုငှားရမ်းခြင်းပြုလုပ်သည့် မြေနှင့်အဆောက်အဦးအား (၁၀)နှစ်ငှားရမ်းဖြစ်ပါသည်။ငှားရမ်းသူမှ ပထမနှစ်(၁)နှစ်စာ ငှားရမ်းခငွေကျပ် (၁၂၀၀၀၀၀၀/-)(ကျပ်သိန်းတစ်ရာ့နှစ်ဆယ်)တိတိ ကိုယနေ့တွင်ပေးချေရာ ပိုင်ရှင်မှလက်ခံရရှိပါသည်။ပိုင်ရှင်မှ (၁၀)နှစ်ပြည့်၍ ဆက်လက်ငှားရမ်းမည်ဆိုပါက ၁၀%ထက်ပိုမတက်ပါဟု ဝန်ခံကတိပြုပါသည်။

၆။ ပျက်ကွက်ခြင်း

အိမ်ရှင်မှ အကြောင်းတစ်စုံတစ်ရာကြောင့် အဆိုပါမြေနှင့်အဆောက်အဦးအား ဆက်လက်၍ မငှားရမ်းပါက ငှားရမ်းသူမှ ငှားရမ်းခပေးထားသော ကျန်ရှိသည့်ကာလအတွက် ကျသင့်ငွေ၏ နှစ်ဆကိုပိုင်ရှင်ကငှားရမ်းသူအားပြန်လည် ပေးလျော်ရမည်ဖြစ်ပြီး ငှားရမ်းသူမှ မြေနှင့်အဆောက်အဦးအား ငှားရမ်း ကာလမပြည့်မီ ပြန်လည်အပ်နှံပါက ကြိုတင်ပေးထားသော ငွေကိုပိုင်ရှင်ထံမှ ပြန်လည် ရပိုင်ခွင့်မရှိဘဲ အဆုံးခံရမည် ဖြစ်ပါသည်။

၇။ အငှားချထားသူ၏ တာဝန်နှင့်အခွန်

အငှားချထားသူ၏ တာဝန်များမှာအောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ငှားရမ်းသူ၏ **MIC**ခွင့်ပြုမိန့်လျှောက်ထားရာတွင် လိုအပ်သောကိစ္စနှင့်ခွင့်ပြုချက်များကို လျှောက်ထား ရယူရာတွင် လိုအပ်သလို ကူညီဆောင်ရွက်ပေးရမည်။

(ခ) ယခုအငှားချထားသည့်ကာလအတွင်း ငှားရမ်းထားသည့်မြေနှင့်အဆောက်အဦးအား လွှဲပြောင်းရောင်း ချခြင်းမပြု လုပ်ရန်နှင့် အဆိုပါမြေနှင့်အဆောက်အဦး၏ ပိုင်ဆိုင်မှုအငှားချထားပိုင်ခွင့်တို့နှင့်စပ်လျဉ်း၍ ပြဿနာတစ်စုံတစ်ရာ ဖြစ်ပွား ပေါ်ပေါက်လာပါက အငှားချထားသူ(ပိုင်ရှင်)မှ ပြေလည်အောင်ဖြေရှင်းဆောင်ရွက်ပေး ရမည်ဖြစ်ပါသည်။အကယ်၍ ပြေလည် အောင်ဖြေရှင်း နိုင်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင်းခံခဲ့ရပါက ကျန်ရှိသော အငှားကာလအတွက် ပေးချေထားပြီးဖြစ်သော ငှားရမ်းခ ကျသင့် ငွေများနှင့်အတူ ငှားရမ်းသူ၏ နစ်နာ ကုန်ကျစရိတ်များ အားလုံးကို အပြည့်အဝပြန်လည် ပေးလျော်ရမည် ဖြစ်သည်။

(ဂ) ယခုအငှားချထားသည့် မြေနှင့်အဆောက်အဦးအတွက် ကျသင့်သည့်မြေခွန်၊ အဆောက်အဦးခွန် အစရှိသည့်အ ခွန်အခများအား ပေးဆောင်ရပါမည်။

(ဃ) ငှားရမ်းသူအနေဖြင့် အဆိုပါမြေနှင့်အဆောက်အဦးကို ဆက်လက်ငှားရမ်းလိုကြောင်း ငှားရမ်းကာလ မကုန်ဆုံးမီ (၁)လကြိုတင်၍ အသိပေးအကြောင်းကြားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(င) ငှားရမ်းသည့်မြေကွက်နှင့်အဆောက်အဦးတစ်ခုလုံးတွင် ငှားရမ်းသူ၏ လုပ်ငန်းများကိုတည်ဆဲ ဥပဒေများ နှင့်အညီ လွတ်လပ်စွာလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုရမည်။

(စ) ငှားရမ်းခြင်းကာလပြီးဆုံးသည့်အချိန်တွင် အဆိုပါမြေနှင့်အဆောက်အဦးတွင် ငှားရမ်းသူမှတပ်ဆင်ထားသော စက်ပစ္စည်းများ၊ ရွှေ့ပြောင်းနိုင်သောပစ္စည်းများ အားလုံးကိုယူဆောင်ခွင့်ပြုရမည်။

စာမျက်နှာ-၃/သို့

၈။ <u>ငှားရမ်းသူ၏ တာဝန်များနှင့် အခွန်</u>

ငှားရမ်းသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ငှားရမ်းထားသည့် မြေနှင့်အဆောက်အဦးတွင် ငှားရမ်းသူအပါအဝင် ၎င်း၏ဝန်ထမ်းများ နေထိုင်အလုပ်လုပ်ကိုင်ခြင်းနှင့် ပတ်သက်၍ လိုအပ်ပါက သက်ဆိုင်ရာအဖွဲ့အစည်းများသို့ ကြိုတင်အသိပေး အကြောင်းကြား၍ ခွင့်ပြုချက်များကို ရယူထားရမည်။ ထိုသို့နေထိုင်လုပ်ကိုင်ရာတွင်လည်း ပတ်ဝန်းကျင်ကို အနှောင့် အယှက်မဖြစ်စေရန် အထူးသတိပြုရမည်။ အငှားချထား သူအနေဖြင့် အငှားချထားသည့်မြေနှင့် အဆောက်အဦးအား ငှားရမ်းသူအနေဖြင့် နေထိုင်သုံးစွဲမှုအပေါ် ကြည့်ရှုစစ်ဆေးလိုပါက ငှားရမ်းသူ၏ ခွင့်ပြုချက်ကို ကြိုတင်ရယူပြီး နံနက် (၉)နာရီမှ ညနေ (၅)နာရီအတွင်း ဝင်ရောက်စစ်ဆေးခွင့်ပြုရပါမည်။

(ခ) ငှားရမ်းသည့်သက်တမ်းကာလအတွင်း ကျသင့်ပေးဆောင်ရမည့် ရေခွန်၊ လျှပ်စစ်မီတာခ၊ စည်ပင်သာယာခွန်၊ ဆိုင်း ဘုတ်ခွန်တို့နှင့်ပတ်သက်သည့် အခွန်အခများကို ငှားရမ်းသူမှ ပေးဆောင်ရမည်။ ငှားရမ်းသူမှ မြေနှင့် အဆောက် အဦးငှားရမ်းရာတွင် ပေးချေရသော ငှားရမ်းခငွေအပေါ်တွင် အခွန်ထမ်းဆောင်ပါမည်ဟု ဝန်ခံကတိပြုပါသည်။အငှားစာချုပ်ကို ရပ်စဲပြီးဆုံး၍ အဆောက်အဦးအား အငှားချထားသူသို့ ပြန်လည်လွှဲပြောင်းပေးအပ်သည့်နေ့တွင် ငှားရမ်းသူမှ မိမိငှားရမ်း ထားစဉ်ကာလအတွင်း ပေးဆောင်ရမည့် အဆိုပါအခွန်အခ (သို့) ငှားရမ်းလုပ်ကိုင်သည့် **MIC**ခွင့်ပြုမိန့်ဖြင့်လုပ်ကိုင်သော ထီးလုပ်ငန်းများ၊ မြန်မာအစိုးရမှ တရားဝင်ငှားရမ်းသူသည် ငှားရမ်းထားသည့် အဆောက်အဦးတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ပိုင်း ကိုဖြစ်စေ၊ တစ်ဆင့်ပြန် လည်ငှားရမ်းခြင်း၊ ရောင်းချ ခြင်း၊ပေါင်နှံခြင်း၊ လွှဲပြောင်းခြင်းတို့ကို ပြုလုပ်ခွင့်မရှိကြောင်း သဘောတူဝန်ခံ ကတိပြုပါသည်။

(ဃ) ငှားရမ်းထားသည့်မြေနှင့် အဆောက်အဦးအား ပြန်လည်အပ်နှံသည့်အခါ မိမိအငှားရယူထားသည့် မြေနှင့်အ ဆောက်အဦးအား သဘာဝအလျောက် ပျက်စီးယိုယွင်းခြင်းမှတစ်ပါး မူလငှားရမ်းစဉ်ကမျက်မြင်အခြေအနေတိုင်း ပြန်လည်အပ်နှံရပါမည်။ ထို့အပြင် ထိုသို့အပ်နှံရာတွင်လည်း သဘာဝအလျောက် ယိုယွင်းပျက်စီးခြင်းမှလွဲ၍ သုံးစွဲသူ၏ ပြုလုပ်ဆောင် ရွက်မှုနှင့်ပေါ့ဆမှုကြောင့် အဆောက် အဦးထိခိုက်ပျက်ဆီးမှုရှိခဲ့ပါက မူလငှားရမ်းစဉ်က မျက်မြင်အခြေအနေအတိုင်း ပြန်လည်ပြုပြင် ဆောင်ရွက်ပေးရမည်။

(င) ငှားရမ်းသူအနေဖြင့် မိမိငှားရမ်းရယူထားသော မြေနှင့်အဆောက်အဦးတွင် လုပ်ကိုင်ဆောင်ရွက်သော လှုပ်ရှားဆောင်ရွက် မှုများ၊ လုပ်ငန်းများအားလုံးသည် နိုင်ငံတော်မှ ချမှတ်ထားသော တည်ဆဲဥပဒေများနှင့်အညီ သေချာစွာလိုက်နာ ဆောင်ရွက်ရမည်။အကယ်၍ ငှားရမ်းသူအနေဖြင့် အစိုးရဥပဒေနှင့် မလွတ်ကင်းသော ကိစ္စရပ်တစ်ခုခုကို ပြုလုပ်မိခြင်းကြောင့် ပြဿနာတစ်စုံ တစ်ရာပေါ်ပေါက်ပါက၊ အငှားချထားသူနှင့် လုံးဝပတ်သက်ခြင်းမရှိရအောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ပေးရန်နှင့် အငှားချထားသူ တွင် ဖြစ်ပေါ်လာသည့် ကုန်ကျစရိတ်အဝဝနှင့် ဆုံးရှုံးနစ်နာမှုအရပ်ရပ်တို့အတွက် ငှားရမ်းသူအနေဖြင့် အငှား ချထားသူသို့ တစ်လုံးတစ်ခဲ တည်းပေးလျော်ပါမည်ဟု ကတိပြုပါသည်။

(စ) ထို့အပြင် ငှားရမ်းသူသည် အဆိုပါငှားရမ်းထားသည့် အဆောက်အဦးအတွင်း တရားဥပဒေနှင့် မလွတ်ကင်းသည့် လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခဲ့ပါက၊ ယခုငှားရမ်းခြင်းကို အငှားချထားသူမှ တစ်ဖက်သတ်ရပ်ဆိုင်း ဖျက်သိမ်းပိုင်ခွင့်ရှိပြီး၊ အငှားချထား သူအနေဖြင့် အငှားချထားသည့် မြေနှင့်အဆောက်အဦးကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိကြောင်း၊ ငှားရမ်းသူမှချွင်းချက်မရှိသဘောတူပါသည်။ယင်းသို့ ပြုလုပ်ခြင်းအတွက် ငှားရမ်းသူအနေဖြင့်လည်း မည်သည့်နည်းနှင့်မျှ တားမြစ် ကန့်ကွက် ခြင်း၊ နစ်နာကြေးတောင်းဆိုခြင်း အစရှိသဖြင့် တစ်စုံတစ်ရာ အရေးယူဆောင်ရွက်ပိုင်ခွင့်မရှိကြောင်းကိုလည်း သဘောတူ ဝန်ခံကတိပြုပါသည်။

စာမျက်နှာ-၄/သို့

၉။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မလွန်ဆန်နိုင်သောဖြစ်ရပ်များ ဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့သည့် ရေဘေး၊ မီးဘေး၊ လေဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ

မလွန်ဆန်၊ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အငှားချထားမှုကို ရပ်စဲရခြင်း ဖြစ်ပေါ်ခဲ့ပါက၊ ထိုသို့ရပ်စဲရသည့်အတွက် ဖြစ်ပေါ်လာသည့်နစ်နာဆုံးရှုံးမှု တစ်စုံတစ်ရာအတွက် မည်သူ တစ်ဦးတစ်ယောက်တွင်မျှ လျော်ကြေးပေးရန် တာဝန်မရှိစေရ။

၁၀။ စာချုပ်သက်တမ်းတိုးခြင်း

ငှားရမ်းသူအနေဖြင့် ငှားရမ်းကာလ (၁)နှစ်ပြည့်မြောက်ပြီးနောက်၊ အဆောက်အဦးအား ဆက်လက်ငှားရမ်းအသုံးပြုလိုပါက ငှားရမ်းသူမှ အငှားချထားသူထံသို့ အဆိုပါငှားရမ်းကာလ မကုန်ဆုံးမီ(၁)လကြိုတင်၍ အသိပေးအကြောင်းကြားရမည်။

၁၁။ စာချုပ်ရပ်စဲခြင်း၊ ငှားရမ်းမှုပြီးဆုံးခြင်း

(က) မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အငှားချထားမှုကို တစ်နည်းနည်းဖြင့် ရပ်စဲရခြင်းဖြစ်ပေါ်လာပါက၊ ထိုသို့ ရပ်စဲရသည့်အတွက် ဖြစ်ပေါ်လာသည့် နစ်နာဆုံးရှုံးမှု တစ်စုံတစ်ရာအတွက် မည်သူ တစ်ဦးတစ်ယောက်တွင်မျှ လျော်ကြေး (သို့မဟုတ်) နစ်နာကြေး တစ်စုံတစ်ရာကို ပေးရန်တာဝန်မရှိစေရ။

(ခ) သက်မှတ်ငှားရမ်းကာလ ပြီးဆုံးရပ်စဲသည့်အချိန်တွင် ငှားရမ်းသူအနေဖြင့် မိမိအငှားရယူထားသည့် မြေနှင့် အဆောက် အဦးအား သဘာဝအလျောက် ပျက်စီးယိုယွင်းခြင်းမှတပါး မူလငှား ရမ်းစဉ်ကမျက်မြင် အခြေအနေတိုင်း အငှားချထား သူသို့အလွတ်လက်ရောက်ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၁၂။ အထွေထွေစည်းကမ်းချက်များ

(က) အငှားချထားသူ၏ကြိုတင်ခွင့်ပြုချက်မရရှိဘဲ ငှားရမ်းသူမှ ဥပစာများအားပြောင်းလဲခြင်း (သို့) တပ်ဆင်ခြင်းများ မပြုလုပ်ရန်နှင့် ပြောင်းလဲပြင်ဆင်မည်ဆိုပါကငှားရမ်းသူမှ အငှားချထားသူသို့ အကြောင်းကြား ၍နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရပါမည်။

(ခ) ဤစာချုပ်တွင်ဖော်ပြထားသောအကြောင်းအချက်များသည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများနှင့် အကျုံး ဝင်သက်ဆိုင်စေရမည်။

(ဂ) ဤစာချုပ်တွင်ဖော်ပြချက်များအားလုံးသည် အငှားချထားသူများနှင့် ငှားရမ်းသူတို့အကြား မူလထားရှိခဲ့သည့် သဘော တူညီချက်များနှင့် ဆွေးနွေးချက်အားလုံးကို ရေးသားဖော်ပြထားခြင်းဖြစ်ပြီး၊ ယခင်က မည်သို့ပင် ရှိစေကာမူ ဤစာချုပ်ပါ အကြောင်းအရာ များအားလုံးသည် နောက်ဆုံးအတည်ဖြစ်ကြောင်း မှတ်ယူရမည်။

၁၃။ ဘာသာစကား

စာချုပ်အား မြန်မာဘာသာဖြင့်ရေးသားချုပ်ဆိုပါသည်။

စာမျက်နှာ-၅/သို့

၁၄။ အနုညာတစီရင်ချက်

ဤစာချုပ်ပါ အကြောင်းအရာတစ်ရပ်ရပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ဖြစ်ပေါ်ခဲ့ပါက နှစ်ဦးနှစ်ဖက် ပြေလည် မှုရရှိအောင် ငြိမ်းအေးစွာ ဖြေရှင်းဆောင်ရွက်ရမည်။ထိုသို့ ဖြေရှင်းသော်လည်း အကယ်၍ပြေလည်မှုမရရှိပါက အနုညာတ စီရင်ဆုံးဖြတ် ခြင်း ဥပဒေ (၂၀၁၆) သို့မဟုတ် ၎င်းဥပဒေအား ပြင်ဆင်ပြောင်းလဲသည့်ဥပဒေပါ ပြဋ္ဌာန်းချက်များအတိုင်း ဖြေရှင်း ဆောင်ရွက်ရမည်။ ကုန်ကျစရိတ်ကို အမှုရှုံးသူက ကျခံစေရမည်။

၁၅။ ဝန်ခံကတိပြု လက်မှတ်ရေးထိုးခြင်း

ဤစာချုပ်ကို ပြုလုပ်ချုပ်ဆိုသူများသည် အထက်တွင် ရေးသားဖော်ပြထားသည့် စည်းကမ်းချက်များကို သေချာစွာဖတ်ရှု နားလည်သဘောပေါက်ကြသဖြင့်၊ မိမိတို့၏ လွတ်လပ်သော သဘောဆန္ဒများနှင့်အညီ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ ၊ ရက်နေ့တွင် အောက်ပါ အသိသက်သေများ၏ရှေ့မှောက်တွင် ဤစာချုပ်အပေါ်တွင် မိမိတို့၏ လက်မှတ်တံဆိပ်များ ခပ်နှိပ်ကြလျှက်နှစ်ဦးနှစ်ဖက် ဝန်ခံကတိပြု လက်မှတ်ရေးထိုးကြပါသည်။

| | အငှားချထားသူ | | ငှားရမ်းသူ |
|---|---|---|---|
| အမည် | ဒေါ်သန္တာထွန်း | အမည် | ဒေါ်ဟောက်ဇန္ဓမ် |
| မှတ်ပုံတင်အမှတ် | ၁၂/ဒဂမ (နိုင်)၀၀၅၈၉၂ | မှတ်ပုံတင်အမှတ် | ၄/တခန(နိုင်)၀၀၄၅၀၂ |
| | | | (HANKI INTERNATIONAL Co., Ltd.) |

အသိသက်သေများ

| | | | |
|---|---|---|---|
| အမည် | ---------------------- | အမည် | -------------------- |
| မှတ်ပုံတင်အမှတ် | ---------------------- | မှတ်ပုံတင်အမှတ် | -------------------- |

ပုံစံ (၆)

# အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားခြင်း**

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၄ အရ အခွန်ကင်းလွတ် ခွင့် သို့မဟုတ် သက်သာခွင့်များ ခံစားခွင့်ရရှိရေးအတွက် အောက်ဖော်ပြပါအချက်များအား ဖြည့်စွက်၍ လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏ ----------------------------------------
(က) အမည် ----------------------------------------
(ခ) ကုမ္ပဏီအမည် ----------------------------------------
(ဂ) လုပ်ငန်းအမျိုးအစား ----------------------------------------
(ဃ) ခွင့်ပြုမိန့်အမှတ် သို့မဟုတ် အတည်ပြုမိန့်အမှတ် (လျှောက်ထားဆဲဖြစ်ပါက လျှောက်ထားဆဲဖြစ်ကြောင်းဖော်ပြရန်)

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏
(က) ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည် ----------------------------------------
(ခ) နိုင်ငံသားစိစစ်ရေးကတ်/ နိုင်ငံကူးလက်မှတ် အမှတ် ----------------------------------------

၃။ တည်ဆောက်မှုကာလ/ ပြင်ဆင်မှု ကာလ ----------------------------------------

၄။ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ ----------------------------------------

၅။ အောက်ပါအခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထားအပ်ပါသည်-
(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၅(က)ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်
(-) ----------------------------------------
(-) ----------------------------------------
(-) ----------------------------------------

**မှတ်ချက်။** မိမိလျှောက်ထားလိုသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ဖော်ပြရန်

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅(က)ပါဝင် ငွေစွန်ကင်းလွတ်ခွင့် လျှောက်ထားမည် ဆိုပါက နည်းဥပဒေ၈၃နှင့် အညီ လုပ်ငန်းဆောင်ရွက်နေသည့်ဇုန်နေရာ သို့မဟုတ် နည်းဥပဒေ ၉၆ နှင့်အညီ တွက်ချက်ထားသော ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းတန်ဖိုး ၆၅ရာခိုင်နှုန်း အထက်အား ရင်းနှီးမြှုပ်နှံ ထားသည့်သို့မဟုတ် လုပ်ငန်း ဆောင်ရွက် နေသည့် ဇုန်နေရာကို ဖော်ပြ ပေးရန်။ ----------------------------------------

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၇ (က) နှင့် (ဃ) ကို လျှောက်ထားမည် ဆိုပါက နည်းဥပဒေ ၈၄ ပါ အချက်အလက်များကို ဇယား (၁) တွင်ဖြည့်စွက်ရန်။

၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၇ (ခ) အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်လျှောက်ထားမည်ဆိုပါက ဇယား(၂) နှင့် အောက်ပါအချက်အလက်များကို ဖော်ပြ ပေးအပ်ရန်-

(က) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှ ရရှိမည့် တစ်နှစ် စာမျှော်မှန်းဝင်ငွေ ----------------------------------------

(ခ) ပို့ကုန်များမှရရှိသော တစ်နှစ်စာ နိုင်ငံခြားငွေ ----------------------------------------

၉။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၈(က)အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါက နည်းဥပဒေ ၉၉နှင့်အညီ တစ်ဖက်ပါအချက်အလက်များကို ဖော်ပြပေး အပ်ရန်-

(က) မည်သည့်ဘဏ္ဍာနှစ်တွင်ရရှိခဲ့သည့် အမြတ်ငွေဖြစ်ကြောင်းဖော်ပြရန်။ ----------------------------------------

(ခ) မည်သည့်ဘဏ္ဍာနှစ်အတွက် ပြန်လည် ရင်းနှီးမြှုပ်နှံလိုကြောင်းဖော်ပြရန်။ ----------------------------------------

(ဂ) ပြန်လည် ရင်းနှီးမြှုပ်နှံမည့် ပမာဏကို ဖော်ပြပေးရန်။ ----------------------------------------

၁၀။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၈(ခ) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါကအောက်ပါအချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) နိုင်ငံတော်၏ သက်ဆိုင်ရာ ဥပဒေများအရ ခွင့်ပြုထားသည့် ပစ္စည်း တန်ဖိုးလျော့တွက်နှုန်းထားနှင့် ၎င်းနှုန်းထား၏၁.၅ဆနှင့် တူညီသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားတို့ကို ယှဉ်တွဲတွက်ချက် ဖော်ပြထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားတွက်ချက်မှုကိုပူးတွဲတင်ပြရန်။

(ခ) ရင်းနှီးမြှုပ်နှံသူသည် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းထားကို တွက်ချက် ခံစားခွင့်အတွက် အခြားသက်ဆိုင်ရာ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံ သီးခြားလျှောက်ထားခြင်း သို့မဟုတ် ရရှိထားခြင်းရှိ/မရှိ။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၈(ဂ) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည်

ပုံစံ(၆)

# အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊
ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ မေလ၊ ၂၄ရက်။

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်လျှောက်ထားခြင်း။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၄အရ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်များခံစားခွင့်ရရှိရေးအတွက်အောက်ဖော်ပြပါအချက်များ အားဖြည့်စွက်၍လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏
(က) အမည် — ဒေါ်ဟောက်ဇန္ဒမ်
(ခ) ကုမ္ပဏီအမည် — Hanki International Co.,Ltd
(ဂ) လုပ်ငန်းအမျိုးအစား — CMP စနစ်ဖြင့်ထီးအမျိုးမျိုး ထုတ်လုပ်သည့်လုပ်ငန်း။
(ဃ) ခွင့်ပြုမိန့်အမှတ် သို့မဟုတ် အတည်ပြုမိန့်အမှတ် (လျှောက်ထားဆဲဖြစ်ပါကလျှောက်ထားဆဲဖြစ်ကြောင်းဖော်ပြရန်) -

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏
(က) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် -
(ခ) နိုင်ငံသားစိစစ်ရေးကတ်/နိုင်ငံကူးလက်မှတ်အမှတ် -

၃။ တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ - (၁) နှစ်

၄။ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ -

၅။ အောက်ပါအခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကိုခံစားခွင့်ပြုနိုင်ပါရန်လျှောက်ထားအပ်ပါသည်-
(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၅(က)ပါ ဝင်ငွေကင်းလွတ်ခွင့်
(-) ကုန်ကြမ်းကင်းလွတ်ခွင့်
(-) စက်ပစ္စည်းအခွန်ကင်းလွတ်ခွင့်

မှတ်ချက်။ မိမိလျှောက်ထားလိုသည့် ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုဖော်ပြရန်။

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၅(က)ပါဝင် ငွေခွန်ကင်းလွတ်ခွင့်လျှောက်ထားမည်ဆိုပါကနည်းဥပဒေ၈၃နှင့်အညီ လုပ်ငန်းဆောင်ရွက်နေသည့်ဇုန်နေရာ သို့မဟုတ် နည်းဥပဒေ၉၆ နှင့်အညီတွက်ချက်ထားသောရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတန်ဖိုး၆၅ရာခိုင်နှုန်းအထက်အားရင်းနှီးမြှုပ်နှံထားသည့်သို့မဟုတ်လုပ်ငန်းဆောင်ရွက်နေသည့်ဇုန်နေရာကိုဖော်ပြပေးရန်။ ဖွံ့ဖြိုးမှုရှိသောဒေသဇုန်(၃)

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇(က)နှင့်(ဃ)ကိုလျှောက်ထားမည်ဆိုပါကနည်းဥပဒေ၈၄ပါအချက်အလက် များကိုဇယား(၁)တွင်ဖြည့်စွက်ရန်။

၈။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇(ခ)အရအခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်လျှောက်ထားမည်ဆိုပါကဇယား(၂)နှင့်အောက်ပါအချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှရရှိမည့်တစ်နှစ်စာ မျှော်မှန်းဝင်ငွေ **$ 276,000**

(ခ) ပို့ကုန်များမှရရှိသောတစ်နှစ်စာနိုင်ငံခြားငွေ **$ 27,6000**

၉။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၈(က)အရကင်းလွတ်ခွင့် နှင့် သက်သာခွင့် လျှောက်ထားမည်ဆိုပါကနည်းဥပဒေ၉၉နှင့်အညီတစ်ဖက်ပါအချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) မည်သည့်ဘဏ္ဍာနှစ်တွင်ရရှိခဲ့သည့် အမြတ်ငွေဖြစ်ကြောင်းဖော်ပြရန်။ -

(ခ) မည်သည့်ဘဏ္ဍာနှစ်အတွက် ပြန်လည် ရင်းနှီးမြှုပ်နှံလိုကြောင်းဖော်ပြရန်။ -

(ဂ) ပြန်လည် ရင်းနှီးမြှုပ်နှံမည့် ပမာဏကို ဖော်ပြန်ပေးရန်။ -

၁၀။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၈(ခ)အရ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်လျှောက်ထားမည်ဆိုပါကအောက်ပါအချက်အလက်များကိုဖော်ပြပေးအပ်ရန်-

(က) နိုင်ငံတော်၏သက်ဆိုင်ရာဥပဒေများအရခွင့်ပြုထားသည့်ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားနှင့်၎င်းနှုန်းထား၏၁. ၅ဆနှင့်တူညီသည့်ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားတို့ကိုယှဉ်တွဲတွက်ချက်ဖော်ပြထားသည့်ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားတွက်ချက်မှုကိုပူးတွဲတင်ပြရန်။

(ခ) ရင်းနှီးမြှုပ်နှံသူသည် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားကိုတွက်ချက်ခံစားခွင့်အတွက်အခြားသက်ဆိုင်ရာအစိုးရဌာန၊အစိုးရအဖွဲ့အစည်းထံသီးခြားလျှောက်ထားခြင်းသို့မဟုတ်ရရှိထားခြင်းရှိမရှိ။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၇၈(ဂ)အရ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်လျှောက်ထားမည်ဆိုပါ

ကဘဏ္ဍာရေးနှစ်အတွက် သုတေသနနှင့်ဖွံ့ဖြိုးရေးလုပ်ငန်းများအမှန်တကယ်ကုန်ကျစရိတ်ကိုစာရင်းပြုစု၍ပူးတွဲတင်ပြရန်။

| | |
|---|---|
| လျှောက်ထားသူလက်မှတ် | ---------------------- |
| အမည် | ဒေါ်ဟောက်ဇနွမ် |
| ရာထူး | မန်နေဂျင်း ဒါရိုက်တာ |
| ဌာန/ကုမ္ပဏီတံဆိပ် | **Hanki International Co., Ltd.** |

HANKI INTERNATIONAL Co., Ltd.

PROJECTED PROFIT & LOSS STATEMENT

| No. | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 to 10 |
|---|---|---|---|---|---|---|---|
| 1 | CMP Income | 276,000 | 314,000 | 352,000 | 352,000 | 400,000 | 466,000 |
| 2 | Salary & Wages | 184,062 | 213,164 | 238,748 | 238,748 | 238,748 | 284,385 |
| 3 | Direct Overhead | 6,538 | 6,538 | 6,538 | 7,192 | 7,192 | 7,912 |
| 4 | Indirect Overhead Expense | 32,308 | 32,308 | 32,308 | 34,615 | 34,615 | 38,077 |
| 5 | Selling & Distribution Expense | 5,000 | 5,000 | 5,000 | 5,500 | 5,500 | 5,500 |
| 6 | Depreciation | - | 23,674 | 23,674 | 23,674 | 23,674 | 23,674 |
| 7 | Total Expense (2+3+4+5+6) | 227,908 | 280,684 | 306,268 | 309,729 | 309,729 | 359,547 |
| 8 | Net Profit before Tax (1-7) | 48,092 | 33,316 | 45,732 | 42,271 | 90,271 | 106,453 |
| 9 | Income Tax (25%) | 12,023 | 8,329 | 11,433 | 10,568 | 22,568 | 26,613 |
| 10 | *Net Profit After Tax (8-9)* | *36,069* | *24,987* | *34,299* | *31,703* | *67,703* | *79,840* |
| 11 | *CSR (2%)* | *721* | *500* | *686* | *634* | *1,354* | *1,597* |

(CSR=Corporate Social Responsibility) USD 1300

## HANKI INTERNATIONAL Co., Ltd.
## DIRECT, INDIRECT SALARY AND WAGES

| *Description* | *Year 1* | | | *Year 2* | | | *Year 3 to 5* | | | *Year 5 to 10* | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| **Local personnel** | **No.of ind-ividuals** | **Monthly salary** | **Annual salary** | **No.of ind-ividuals** | **Monthly salary** | **Annual salary** | **No.of ind-ividuals** | **Monthly salary** | **Annual salary** | **No.of ind-ividuals** | **Monthly salary** | **Annual salary** |
| Technician | 2 | 260,000 | 6,240,000 | 2 | 265,200 | 6,364,800 | 2 | 270,504 | 6,492,096 | 2 | 297,554 | 7,141,306 |
| Factory Manager | 2 | 250,000 | 6,000,000 | 2 | 255,000 | 6,120,000 | 2 | 260,100 | 6,242,400 | 2 | 286,110 | 6,866,640 |
| Finance Manager | 1 | 200,000 | 2,400,000 | 1 | 204,000 | 2,448,000 | 1 | 208,080 | 2,496,960 | 1 | 228,888 | 2,746,656 |
| Admin Manager | 1 | 250,000 | 3,000,000 | 1 | 255,000 | 3,060,000 | 1 | 260,100 | 3,121,200 | 1 | 286,110 | 3,433,320 |
| Supervisor | 1 | 250,000 | 3,000,000 | 1 | 255,000 | 3,060,000 | 1 | 260,100 | 3,121,200 | 1 | 286,110 | 3,433,320 |
| Assistant Supervisor | 2 | 200,000 | 4,800,000 | 2 | 204,000 | 4,896,000 | 2 | 208,080 | 4,993,920 | 2 | 228,888 | 5,493,312 |
| Office Staff | 5 | 160,000 | 9,600,000 | 5 | 163,200 | 9,792,000 | 7 | 166,464 | 13,982,976 | 8 | 183,110 | 17,578,598 |
| Security | 2 | 160,000 | 3,840,000 | 2 | 163,200 | 3,916,800 | 2 | 166,464 | 3,995,136 | 2 | 183,110 | 4,394,650 |
| Driver | 3 | 200,000 | 7,200,000 | 3 | 204,000 | 7,344,000 | 3 | 208,080 | 7,490,880 | 3 | 228,888 | 8,239,968 |
| Cleaner | 2 | 150,000 | 3,600,000 | 2 | 153,000 | 3,672,000 | 2 | 156,060 | 3,745,440 | 2 | 171,666 | 4,119,984 |
| Machine | 10 | 220,000 | 26,400,000 | 10 | 224,400 | 26,928,000 | 10 | 228,888 | 27,466,560 | 10 | 251,777 | 30,213,216 |
| Worker-skilled | 40 | 220,000 | 105,600,000 | 45 | 224,400 | 121,176,000 | 50 | 228,888 | 137,332,800 | 55 | 251,777 | 166,172,688 |
| Worker-unskilled | 30 | 160,000 | 57,600,000 | 40 | 163,200 | 78,336,000 | 45 | 166,464 | 89,890,560 | 50 | 183,110 | 109,866,240 |
| **Total** | **101** | | **239,280,000** | **116** | | **277,113,600** | **128** | | **310,372,128** | **139** | | **369,699,898** |
| **Total (USD) / US$1=1,300** | | | **184,062** | | | **213,164** | | | **238,748** | | | **284,385** |

**HANKI INTERNATIONAL Co., Ltd.**
Umbrella and Umbrella (Poe,eva) NORM

| No | Item | Unit | Umbrella | Umbrella(Poe,eva) |
|---|---|---|---|---|
| 1 | frame | PCS | 700,000 | 800,000 |
| 2 | fabric | yd | 700,000 | 800,000 |
| 3 | handel | PCS | 700,000 | 800,000 |
| 4 | cap | PCS | 700,000 | 800,000 |
| 5 | Opp | PCS | 700,000 | 800,000 |
| 6 | Tag | PCS | 700,000 | 800,000 |
| 7 | Label | PCS | 700,000 | 800,000 |
| 8 | Box | PCS | 14,000 | 16,000 |
| 9 | Pack-thread | Yd | 3,500 | 4,000 |
| 10 | Tape | Yd | 3,500 | 4,000 |

USD 1300

HANKI INTERNATIONAL Co., Ltd.

PRODUCTION & CMP INCOME STATEMENT

| Sr.no | Particulars | A/U | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 to 10 |
|---|---|---|---|---|---|---|---|---|
| 1 | Export (100%) | % | 100% | 100% | 100% | 100% | 100% | 100% |
| A. CMP Quantity (Production) | | | | | | | | |
| 1 | Umbrella | Qty | 700,000 | 800,000 | 900,000 | 900,000 | 1,000,000 | 1,200,000 |
| 2 | Umbrella(poe,eva) | Qty | 800,000 | 900,000 | 1,000,000 | 1,000,000 | 1,200,000 | 1,300,000 |
| | Total | | 1,500,000 | 1,700,000 | 1,900,000 | 1,900,000 | 2,200,000 | 2,500,000 |
| B. CMP Charge (Rate) | | | | | | | | |
| 1 | Umbrella | USD/Pcs | 0.28 | 0.28 | 0.28 | 0.28 | 0.28 | 0.28 |
| 2 | Umbrella(poe,eva) | USD/Pcs | 0.1 | 0.1 | 0.1 | 0.1 | 0.1 | 0.1 |
| C. Total Charge (A X B) | | | | | | | | |
| 1 | Umbrella | US$ | 196,000 | 224,000 | 252,000 | 252,000 | 280,000 | 336,000 |
| 2 | Umbrella(poe,eva) | US$ | 80,000 | 90,000 | 100,000 | 100,000 | 120,000 | 130,000 |
| | **Total Income** | **US$** | **276,000** | **314,000** | **352,000** | **352,000** | **400,000** | **466,000** |

## Myanmar Umbrella Factory Floor Plan

**1F** Ceiling Height : 3,500mm






Myanmar Umbrella Factory Floor Plan



# Myanmar Umbrella Factory Floor Plan

**2F** Ceiling Height : 3,000mm



Myanmar Umbrella Factory Floor Plan

3F Ceiling Height : 2,600mm



